သမိုင်းဝင်
အင်ကြင်းမြိုင်ယက္ကာန်းစင်တောင်တော်
(၁၈၅မိုင် ၅ဖာလုံ)၊ နေပြည်တော်တွင်
သာသနာပြုလျက်ရှိသော

# တိသသဂူရ ရသေ့ကြီး
# အဘိုးဦးအောင်ဓမ္မသုခ

# ၏

# ဘုရားရှိခိုးမေတ္တာပို့သနည်း

သမိုင်းဝင်
အင်ကြင်းမြိုင်ယက္ကန်းစင်တောင်တော်
(၁၈၅မိုင် ၅ဖာလုံ)၊ နေပြည်တော်တွင်
သာသနာပြုလျက်ရှိသော

# တိသဂူရ ရသေ့ကြီး
# အဘိုးဦးအောင်ဓမ္မသုခ

၏

# ဘုရားရှိခိုးမေတ္တာပို့သနည်း

## ဗုဒ္ဓ ပူဇေမိ၊ ဓမ္မံ ပူဇေမိ၊ သံဃာ ပူဇေမိ၊ မာတာပိတု ပူဇေမိ၊ အာစရိယ ပူဇေမိ

၁။ ဘုန်းတော်အလွန်တရားကြီးမြတ်တော်မူသော ကက္ကုသန္ဓာ၊ ကောဏာဂုဏ်၊ ကဿပ၊ ဂေါတမ၊ အရိမေတ္တယျ ဘုရားငါးဆူအား ဦးထိပ်ထား၍–

အရှေ့သမုဒ္ဒပင်လယ်ပြင်၌ ရွှေပြဿဒ်ဖြင့် သီတင်းသုံးစံပယ်နေထိုင်တော်မူသော အရှင်သဂ္ဂောသာရမထေရ်မြတ်အားလည်းကောင်း၊

မြောက်သမုဒ္ဒပင်လယ်ပြင်၌ ရွှေပြဿဒ်ဖြင့် သီတင်းသုံးစံပယ်နေထိုင်တော်မူသော အရှင်အနောက်သမုဒ္ဒမထေရ်မြတ်အားလည်းကောင်း၊

တောင်သမုဒ္ဒပင်လယ်ပြင်၌ ရွှေပြဿဒ်ဖြင့် သီတင်းသုံးစံပယ်နေထိုင်တော်မူသော အရှင်ဥပဂုတ္တတိသနာဂသေနမထေရ်မြတ်အားလည်းကောင်း၊

ခြောက်ဆယ့်ကိုးပါးသော ဝိဇ္ဇာ ထိုအရှင်သူမြတ်ကြီးများအားလည်းကောင်း၊

အဘအောင်မင်းခေါင်၊ အဘဘိုးဘိုးအောင်၊ ယက္ကန်းစင်တောင်ဆရာတော် ဦးညြဘာသ မထေရ်မြတ်နှင့်တကွ အဘဘိုးတော်ပြူး၊ အဘဘိုးတော်စကြာမင်း၊ အဘဘိုးတော်ပွင့်၊ အဘဘိုးတော်ဟန်၊ ကွမ်းကုံးမယ်လယ်ဖူး၊ ကွမ်းရင့်စီဆိုင်ဖူးစာ၊ ဝိဇ္ဇာရှစ်သောင်း ဆရာအပေါင်းတို့အား လည်းကောင်း၊

သာသနာတော်အား ထိန်းသိမ်းစောင့်ရှောက်ပေးလျက်ရှိသော ဣန္ဒာ သဂ္ဂအမည်ရသည့် အဘဘိုးတော်သိကြားမင်းနှင့်တကွ ဓတရဋ္ဌ၊ ဝိရုဠှက၊ ဝိရူပက္ခ၊ ကုဝေရ စတုမဟာနတ်မင်းကြီးလေးပါး၊ သူရဿတီ၊ စန္ဒီ၊ ပါရမီ သွား၊ မဟာပိန္နဲ၊ ဂေါရမန္တရ နတ်မင်းကြီးအပေါင်းတို့အား လည်းကောင်း မေ ဘုရားတပည့်တော်သည် ရှိသေမြတ်နိုးလက်စုံမိုး၍ ရှိခိုးပူဇော် ဦးခိုက် ကန်တော့ရင်း မောန် ပုဇွ ဤပန်းကို မောန်ပါတိန် ဤသောက်တော်ရေ ကျမ်း၊ ဤဆီမီးကိုလည်းကောင်း၊ မောန်ဗောဇဉ် ဤခဲဖွယ်ဗောဇဉ် သစ်သီး တို့ကိုလည်းကောင်း ဒေမပူဇာန် သဒ္ဓါရိုကျိုး လက်စုံမိုး၍ ကပ်လှူပူဇော်ကြ ပါကုန်၏ အရှင်မြတ်ဘုရား၊ လှူဒါန်းကြပါကုန်၏ အရှင်မြတ်ဘုရား။ မေိတန် ပုညံ၊ ကံမွန် ဤသို့ လှူဒါန်းပူဇော် ကန်တော့သည်ကို လက်ခံသုံးစွဲတော်မူ ၍ လိုရာဖိုခါတ်သို့ ယူဆောင် သုံးဆောင်တော်မူပါ အရှင်မြတ်ကြီးတို့ ဘုရား။

ဣတိ ဤသို့ လှူဒါန်းပူဇော်ကန်တော့ရသော ကုသိုလ်ကောင်းမှုကံ စေတနာတို့ကြောင့် မေ ဘုရားတပည့်တော်သည် အပယ်လေးပါး၊ ကပ်သုံး ပါး၊ ရပ်ပြစ်ရှစ်ပါး၊ ရန်သူမျိုးငါးပါး၊ ဝိပတ္တိတရားလေးပါး၊ ဗျသနတရား ငါးပါးတို့မှ အခါခပ်သိမ်း ကင်းလွတ်ငြိမ်းသည်ဖြစ်၍ ဘုရားတပည့်တော် ကျင့်ကြံကြိုးစားအားထုတ်ဆဲဖြစ်သော ဝိပဿနာဉာဏ်သည် မဂ်ဉာဏ်၊ ဖိုဉာဏ် နိဗ္ဗာန်သို့ လျင်မြန်စွာ ကျေးဖူးပြုသောအားဖြင့် ပဋိသန္ဓေနေရခြင်း၊ အိုခြင်း၊ နာခြင်း၊ သေခြင်းတို့မှ ကင်းရာကုန်ရာ ချုပ်ငြိမ်းရာဖြစ်သော နိဗ္ဗာန် နိဗ္ဗာန်သို့ မျက်မှောက်ပြုရပါလို၏ အရှင်မြတ်ဘုရား။

၂။ အတီတေ ဝတ္တမာနေစ ယံပုညံ ကတကမ္မရာ ဓောနသာစွဝဇ္ဇေန သဗ္ဗညုဗုဒ္ဓမေဟောတု သဗ္ဗဒါပါဘုရား...

(ဤဌာန) ၌ မှီတင်းဖြစ်ပေါ်နေထိုင်ကြကုန်သော တောစောင့်နတ်၊ တောင်စောင့်နတ်၊ ရုက္ခစိုးနတ်အပေါင်းမှန်သမျှတို့သည် လည်းကောင်း၊

နဂါး၊ ဂဠုန်၊ ဂုမ္ဘာန်ယက္ခ၊ ဂန္ဓဗ နတ်အပေါင်းတို့သည် လည်းကောင်း၊ နဂါးသိုက်၊ ဘုရားသိုက်၊ ကုလားသိုက်၊ ရှမ်းသိုက်၊ ဘီလူးသိုက် သိုက်စောင့် သိုက်ချုပ် အပါင်းမှန်သမျှတို့သည်လည်းကောင်း၊ လမိုင်းဒေဝါနတ်ဒကာ အပေါင်းတို့သည်လည်းကောင်း ကျွန်ုပ်နှင့်အတူ ဘုရားရှိခိုးရန်၊ ဘုရားဝတ် တတ်ရန် ကြွကြပါလော လာကြပါလော။ (သုံးကြိမ်ပင့်ဖိတ်ပါ)

**(သက္ကိန်ဒေဝ မဟာရာဇ သဗ္ဗိ ဟောတိ သမ္ဘာဂမော သာန သိဂ်တိ ပါလေတိ နာ သဗ္ဗိဗဟုသိဂ်မော၊ သဗ္ဗေယေဝ သမ္ဘာဒေထ သဗ္ဗေဂုဗ္ဗေထ သန္တဝံ သတံသဒ္ဒမ္မမညာရ သေယောဟောတိ န ပါပိ ယော၊ ဖိရန္တိဝေ ရာဇရထာ သုစိတ္တာ အာထော သရီရမ္ပိ ဇရံ ဥပေတိ သံတဥ္စဓမ္မော နဇယံ ဥပေတိ၊ သံကောဟဝေ သဗ္ဗိပဝေ ဒယန္တိ နဘံစ ဒူရေ ပထဝီစ ဒရေထာ၊ ဘာရံသမုဒ်ဒသ တဒါဟုဒူရေ ဒတောဟဝေ ဒူဓရံ ဝရံတိ သံတဥ္စ ဓမ္မော အသတဥ္စရာဇာ)**

**သုံးခေါက်ပူဇော်ပါ**

* * *

**၃။ ဘဂဝါတော ဘုန်းတော်ခြောက်ပါးနှင့်ပြည့်စုံတော်မူသောမြတ်စွာဘုရား**

ဘုရားတပည့်တော်သည်...

ဘုရားကို ကိုးကွယ်ပါ၏

တရားကို ကိုးကွယ်ပါ၏

သံဃာကို ကိုးကွယ်ပါ၏

မိဘကို ကိုးကွယ်ပါ၏

ဆရာသမားကို ကိုးကွယ်ပါ၏

ဤသို့ ဤသို့ဘုရား၊ တရား၊ သံဃာ၊ မိဘ၊ ဆရာသမားတို့ကို ကိုးကွယ်ဆည်းကပ်ပူဇော်ရင်း ဘုရားရှင်ကိုယ်တော်မြတ်ကြီး ညွှန်ပြတော်မူသော အာနာပါနခေါ် ဝင်လေထွက်လေကမ္မဋ္ဌာန်းကို ရှုမြင်မှတ်သားပွား များအားထုတ်ပါ၏။ ဤသို့ ဤသို့အားထုတ်ရာမှ ဝင်လေဖြစ်ခြင်း၊ ထွက်လေ ဖြစ်ခြင်း၊ ဝင်လေချုပ်ငြိမ်းခြင်း၊ ထွက်လေချုပ်ငြိမ်းခြင်း၊ အနိစ္စမမြဲခြင်း သဘောလက္ခဏာ၊ ဒုက္ခဆင်းရဲခြင်း သဘောလက္ခဏာ အနတ္တအနှစ်ကင်းပ အစိုးမရခြင်း သဘောလက္ခဏာတို့ကို ကိုယ်တိုင်ကိုယ်ကျ ရှုမြင်သုံးသပ်ရရှိ ခံစားရပါသည် အရှင်မြတ်ဘုရား။

**ဧတေနသစ္စဝဇ္ဇေန** (မှန်ကန်သော သစ္စာစကားကြောင့် အနန္တစကြာ ဝဠာအတွင်း၌ မှီတင်းဖြစ်ပေါ် နေထိုင်ကြကုန်သော အနန္တနတ်၊ လူ၊ ဗြဟ္မာ၊ အနန္တသတ္တဝါအားလုံး၊ ဤ (ဌာန)၌ မှီတင်းဖြစ်ပေါ် နေထိုင်ကြကုန်သော အနန္တနတ်၊ လူ၊ ဗြဟ္မာ၊ အနန္တသတ္တဝါအားလုံး၊ ဤ (ဌာန)နှင့် ဆက်စပ်၍ မှီတင်းဖြစ်ပေါ် နေထိုင်ကြကုန်သော အနန္တနတ်၊ လူ၊ ဗြဟ္မာ၊ အနန္တသတ္တဝါ အားလုံး၊ ပြုလုပ်ဆောင်ရွက်လျက်ရှိသော လုပ်ငန်းနှင့်ဆက်စပ်၍ မှီတင်း ဖြစ်ပေါ် နေထိုင်ကြကုန်သော အနန္တနတ်၊ လူ၊ ဗြဟ္မာ၊ အနန္တသတ္တဝါ အားလုံး ဘေးရန်ခပ်သိမ်း ကင်းငြိမ်းချမ်းသာဖြစ်ကြပါစေ၊ ဒေါသခပ်သိမ်း

ကင်းငြိမ်းချမ်းသာဖြစ်ကြပါစေ၊ ဆင်းရဲခပ်သိမ်း ကင်းငြိမ်းချမ်းသာဖြစ်ကြပါစေ၊ နှလုံးစိတ်ဝမ်း အေးချမ်းသာယာဖြစ်ကြပါစေကုန်သတည်း။)

၄။ ဘဂဝါတော ဘုန်းတော်ခြောက်ပါးနှင့် ပြည့်စုံတော်မူသော **မြတ်စွာ ဘုရား** တသမာ ထိုမှတပါးလည်း တပည့်တော်တည်းဟူသော ဤနာမ်ရုပ်တွင် အာရုံ (၆) ပါး၊ နာမ်ရုပ်တရား (၂) ပါး၊ လှုပ်ရှားမှုတရား (၁) ပါး ပေါင်း (၉) ပါးသော အကြောင်းတရားတို့ စုပေါင်းဖြစ်တည်နေခြင်းကြောင့် သမုဒယသစ္စာနာမ်ရုပ်သာလျှင်ဖြစ်ကြောင်း၊ ထိုသမုဒယသစ္စာနာမ်ရုပ်ရရှိသည့်အချိန်ကစ၍ပင်လျှင် ကြုံတွေ့ခံစားသိမြင်နေရသော အကြောင်းတရားမှန်သမျှတို့သည် ဒုက္ခသစ္စာဖြစ်ကြောင်း၊ထိုသမုဒယသစ္စာ၊ ဒုက္ခသစ္စာဖြစ်၍နေသော ပျက်၍နေသော ဤနာမ်ရုပ်သည် အမြဲတစေဖြစ်ပျက် ပြုပြင်ပြောင်းလဲနေသော သဘောရှိခြင်းကြောင့် သင်္ခါရသဘောရှုမှတ်ပွားများအားထုတ်စရာ မဂ္ဂသစ္စာ နာမ်ရုပ်သာလျှင် ဖြစ်ကြောင်း၊ ထိုသမုဒယသစ္စာ၊ ဒုက္ခသစ္စာ၊ မဂ္ဂသစ္စာတည်းဟူသော အကြောင်းတရား (၃) ပါး ဖြစ်၍နေသော၊ ပျက်၍နေသော ဤနာမ်ရုပ်သည် ဖြစ်ဆဲကာလ၌လည်းကောင်း၊ ဖြစ်ပြီး ကာလ၌ လည်းကောင်း၊ အန္တိမနောက်ဆုံးကာလ၌လည်းကောင်း နိရောဓ်ချုပ်ငြိမ်းရသည်ကို သိရှိခံစားရသောကြောင့် နိရောဓသစ္စာ။ ထိုသမုဒယ သစ္စာ၊ ဒုက္ခသစ္စာ၊ မဂ္ဂသစ္စာ၊ နိရောဓသစ္စာတည်းဟုဆိုအပ်သော သစ္စာလေးပါးမြတ်တရားတို့ ဖြစ်၍နေသော၊ ပျက်၍ နေသော ဤနာမ်ရုပ်သည် အန္တိမနောက်ဆုံးကာလ၌ နိရောဓ် ချုပ်ငြိမ်းရသည်ကို ကိုယ်တိုင်ကိုယ်ကျ ရှုမြင်သုံးသပ်ရရှိခံစားရပါသည် အရှင်မြတ်ဘုရား။

**ဝေဘနသစ္စဝဒ္ဓေန (　　　　)**

၅။ ဘဂဝါတော ဘုန်းတော်ခြောက်ပါးနှင့် ပြည့်စုံတော်မူသော မြတ်စွာဘုရား– တသမာ ထိုမှတပါးလည်း ဘုရားတပည့်တော်တည်းဟူသော ဤနာမ်ရုပ်သည် ခတ်လေးပါး နာမ်ရုပ်သာလျှင် ဖြစ်ပါသည် အရှင်မြတ်ဘုရား။ ထိုခတ်လေးပါး နာမ်ရုပ်ကြီးသည်လည်းကောင်း၊ ခတ်လေးပါး တည်ရှိရာ ဩကာသလောကကြီးသည် လည်းကောင်း၊ ဩကာသလောကကို မှီ၍ဖြစ်ပေါ်သော သတ္တလောကသည် လည်းကောင်း၊ အမြဲတစေ ဖြစ်ပျက် ပြုပြင်ပြောင်းလဲနေသော သင်္ခါရလောကကြီးသည် လည်းကောင်း၊ ထိုသတ္တလောက၊ သင်္ခါရလောက၊ ဩကာသလောကတည်း ဟူသော လောက သုံးပါးကိုမှီ၍ ဖြစ်ပေါ်ကြကုန်သော အနန္တ နတ်၊ လူ၊ ဗြဟ္မာ၊ အနန္တသတ္တဝါ အပေါင်းတို့သည်လည်းကောင်း အနိစ္စမမြဲကြပါကုန်၊ ဒုက္ခဆင်းရဲကြပါကုန်၏။ အနတ္တ အနှစ်ကင်းပ အစိုးမရကြပါကုန်၊ နိဗ္ဗာန ချုပ်ငြိမ်းကြပါပေကုန်၏ အရှင်မြတ်ဘုရား။

ဝေဒနာသစ္စဝဏ္ဏနာ (            )

၆။ ဘဂဝါတော ဘုန်းတော်ခြောက်ပါးနှင့် ပြည့်စုံတော်မူသော မြတ်စွာဘုရား– လောကေလောက၌ ဘဝ သမုဒယသစ္စာ၊ ဒုက္ခသစ္စာ၊ မဂ္ဂသစ္စာ၊ နိရောဓသစ္စာ ဟုဆိုအပ်သော ပေါင်းစပ်ဖွဲ့စည်းမှုကြောင့် ဖြစ်ပေါ်လာသော သစ္စာလေးပါးအကြောင်းတရား ရုပ်နာမ်တို့သည်လည်းကောင်း၊ ဆန္ဒ (သမုဒယသစ္စာ၊ ဒုက္ခသစ္စာ၊ မဂ္ဂသစ္စာ၊ နိရောဓသစ္စာ) ဟုဆိုအပ်သော လိုချင်တပ်မက်မှုကြောင့် ဖြစ်ပေါ်လာရသော သစ္စာလေးပါးအကြောင်းတရား နာမ်ရုပ်တို့သည်လည်းကောင်း၊ ကမ္မ (သမုဒယသစ္စာ၊ ဒုက္ခသစ္စာ၊ မဂ္ဂသစ္စာ၊ နိရောဓသစ္စာ) ဟုဆိုအပ်သော ပြုလုပ်ဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာရသော သစ္စာလေးပါး အကြောင်းတရား နာမ်ရုပ်တို့သည်လည်းကောင်း၊

ဇာတိ (သမုဒယသစ္စာ၊ ဒုက္ခသစ္စာ၊ မဂ္ဂသစ္စာ၊ နိရောဓသစ္စာ) ဟုဆိုအပ်သော ဖြစ်ခြင်းဟူသော အကြောင်းတရားကြောင့် ဖြစ်ပေါ်လာရသော သစ္စာလေးပါး အကြောင်းတရား နာမ်ရုပ်တို့သည်လည်းကောင်း အနိစ္စမမြဲကြပါကုန် ဒုက္ခ ဆင်းရဲကြပါကုန်၊ အနတ္တ အနှစ်ကင်းပ အစိုးမရကြပါကုန်၊ နိရောဓ ချုပ်ငြိမ်း ကြပါကုန်၏ အရှင်ဘုရား။

**ဝေဒနာသစ္စဝဇ္ဇနေ (            )**

၇။ **ဘဂဝါတော ဘုန်းတော်ခြောက်ပါးနှင့် ပြည့်စုံတော်မူသော မြတ်စွာဘုရား**– လောကေ လောက၌ အရှုခံနာမ်ရုပ်တရားတို့သည် လည်း ကောင်း၊ ရှုကြည့်သော နာမ်ရုပ်တရားကြီးသည် လည်းကောင်း၊ ရှုကြည့် ခြင်းတည်းဟူသော အကြောင်းတရား နာမ်ရုပ်တို့သည်လည်းကောင်း၊ ရူပ က္ခန္ဓာ၊ သင်္ခါရက္ခန္ဓာ၊ သညာက္ခန္ဓာ၊ ဝေဒနာက္ခန္ဓာ၊ ဝိညာဏက္ခန္ဓာတည်းဟူ သော ခန္ဓာငါးပါး နာမ်ရုပ်တရားတို့သည်လည်းကောင်း၊ အနိစ္စမမြဲကြပါကုန်၊ ဒုက္ခဆင်းရဲကြပါကုန်၊ အနတ္တ အနှစ်ကင်းပ အစိုးမရကြပါကုန်၊ နိရောဓချုပ် ငြိမ်းကြပါပေကုန်၏။

**ဝေဒနာသစ္စဝဇ္ဇနေ (            )**

၈။ **ဘဂဝါတော ဘုန်းတော်ခြောက်ပါးနှင့် ပြည့်စုံတော်မူသော မြတ်စွာဘုရား**– လောကေ လောက၌ ကိုးကွယ်ဆည်းကပ်စရာ၊ အားထား စရာ၊ ကျင့်ကြံကြိုးစား ပွားများအားထုတ်စရာတရားသည်ကား ဝေဘာဓမ္မော တစ်ခုတည်းသော ဖြစ်ခြင်းကင်းရာ၊ ချုပ်ငြိမ်းရာအမှန် မြတ်သောနိဗ္ဗာန်တရား သည်သာလျှင် ဖြစ်ပါသည် အရှင်မြတ်ဘုရား။

**ဝေဒနာသစ္စဝဇ္ဇနေ (            )**

၉။ **ဘဂဝါတော ဘုန်းတော်ခြောက်ပါးနှင့် ပြည့်စုံတော်မူသော မြတ်စွာဘုရား**– ဣတိ ဤသို့ တွေ့ရှိခံစား သိမြင်ရသောကြောင့် မေအမှာက် ကျွန်ုပ်ဟု ခေါ်တွင်သမုတ် ဤနာမ်ရုပ်သည် ယနေ့လက်ရှိ မျက်မှောက်ကာလ၌ မြင်မှုဖြစ်တိုင်း၊ ကြားမှုဖြစ်တိုင်း၊ ထိသိမှုဖြစ်တိုင်း၊ ဝင်လေဖြစ်တိုင်း၊ ထွက်လေဖြစ်တိုင်း၊ ဖြစ်တိုင်းနာမ်ရုပ် ချုပ်ငြိမ်းရသည် ဖြစ်တိုင်းသော နာမ်ရုပ် ချုပ်ငြိမ်းရသည်ကို ဆက်လက်ရှုမြင်သုံးသပ် ပွားများအားထုတ်လျက်ရှိပါသည် အရှင်မြတ်ဘုရား။

**ဝေဒနာသစ္စဝဇ္ဇေန ( )**

၁၀။ **ဘဂဝါတော ဘုန်းတော်ခြောက်ပါးနှင့် ပြည့်စုံတော်မူသော မြတ်စွာဘုရား**– ဣတိ ဤသို့ တွေ့ရှိခံစားသိမြင်ရသော ဓမ္မတရားတော်မြတ်တို့ကို မေအမှာက် ကျွန်ုပ်ဟု ခေါ်တွင်သမုတ် ဤနာမ်ရုပ်သည် ဗုဒ္ဓသဘုရားသခင် ကိုယ်တော်မြတ်ကြီး ညွှန်ပြတော်မူသော အာနာပါနခေါ် ဝင်လေထွက်လေ ကမ္မဋ္ဌာန်းကို ရှုမြင်မှတ်သား ပွားများအားထုတ်ရာမှ ဇာနာမိ ကိုယ်တိုင်ကိုယ်ကျ ရှုမြင်သုံးသပ် ရရှိခံစားရသော ဓမ္မတရားတော်မြတ်တို့သာလျှင်ဖြစ်ပါသည် အရှင်မြတ်ဘုရား။

**ဝေဒနာသစ္စဝဇ္ဇေန ( )**

၁၁။ **ဘဂဝါတော ဘုန်းတော်ခြောက်ပါးနှင့် ပြည့်စုံတော်မူသော မြတ်စွာဘုရား**– ဇေတံ ဤသို့ တွေ့ရှိခံစားသိမြင်ရသော ဓမ္မတရားတော်မြတ်တို့ကို–

ဗုဒ္ဓသ ဘုရားသခင်ကိုယ်တော်မြတ်ကြီးအား ပူဇေမိပူဇော်ပါ၏။

ဓမ္မံ တရားတော်မြတ်တို့ကို ပူဇေမိပူဇော်ပါ၏။

သံဃာ သံဃာတော်အရှင်သူမြတ်တို့ကို ပူဇေမိပူဇော်ပါ၏။

မာတာပိတု အမိအဖတို့ကို ပူဇော်ပူဇော်ပါ၏။

အာစရိယ ဆရာသမားတို့ကို ပူဇော်ပူဇော်ပါ၏။

ဤသို့ ဤသို့ ဘုရား၊ တရား၊ သံဃာ၊ မိဘ၊ ဆရာသမားတို့ကို ပူဇော်ကန်တော့ရသော ကုသိုလ်ကောင်းမှုကံ စေတနာတို့ကြောင့် လည်းကောင်း၊ တရားတော်တို့ကို ကိုယ်တိုင်ကိုယ်ကျ ကျင့်ကြံကြိုးစား ပွားများအားထုတ်ရသော ကုသိုလ်ကောင်းမှုကံ စေတနာ အဖို့ဘာဂကြောင့်လည်းကောင်း၊ တရားတော်၏ ဂုဏ်ကျေးဇူးကြောင့်လည်းကောင်း၊ ဘုရား၊ တရား၊ သံဃာ၊ မိဘ၊ ဆရာသမားတို့၏ မေတ္တာတော် အာနုဘော်တို့ကြောင့် လည်းကောင်း၊ မေအမှာကံ ကျွန်ုပ်ဟု ခေါ်တွင်သမုတ် ဤနာမ်ရုပ်သည် လုပ်တိုင်း စီးပွားအကြောင်းတရားတို့ ဟုတ်တိုင်းမှန်ရာ ဖြစ်ရပါစေသတည်း။

၁၂။ **ဘဂဝါတော ဘုန်းတော်ခြောက်ပါးနှင့် ပြည့်စုံတော်မူသော မြတ်စွာဘုရား**– တသမာထိုမှတပါး လောကေလောကဌ ပထဝီ၊ တေဇော၊ အာပေါ၊ ဝါယော ဓာတ်လေးပါးတို့သည် သန္တိရှိကြပါပေကုန်၏။ သန္တိဓမ္မံ စတုဓာတုကမ္မဏံ ထိုသို့ရှိကြကုန်သော ဓာတ်လေးပါးတို့တွင် မဟာပထဝီယော ကြီးကျယ်မြင့်မြတ်စွာသော မြေဓာတ်၌–

(က) ဝန်ဆောင်နိုင်မှု စွမ်းအားဂုဏ်သတ္တိသည် လည်းကောင်း၊

(ခ) သိမ်းဆည်းနိုင်မှု စွမ်းအားဂုဏ်သတ္တိသည် လည်းကောင်း၊

(ဂ) စားရေးထုတ်ပေးနိုင်သော စွမ်းအားဂုဏ်သတ္တိသည် လည်းကောင်း၊

(ဃ) ဝတ်ရေးကိုထုတ်ပေးနိုင်သော စွမ်းအားဂုဏ်သတ္တိသည် လည်းကောင်း၊

(င) နေရေးကိုထုတ်ပေးနိုင်သော စွမ်းအားဂုဏ်သတ္တိသည် လည်းကောင်း အမှန်ပင်ရှိပါပေ၏။

ဣတိ ဤသို့ စွမ်းအားငါးပါးဂုဏ်သတ္တိများနှင့် ပြည့်စုံသော မဟာပထဝီယော ကြီးကျယ်မြင့်မြတ်စွာသော မြေဓာတ်သည် မေမှာကံ ကျွန်ုပ်ဟု ခေါ်တွင်သမုတ် ဤနာမ်ရုပ်၌ အမှန်ပင်ရှိပါပေ၏။

**ဧတေနသစ္စဝဇ္ဇေန** မှန်ကန်သော သစ္စာစကားကြောင့် စွမ်းအားငါးပါး ဂုဏ်သတ္တိများနှင့် ပြည့်စုံသော မဟာပထဝီယော ကြီးကျယ်မြင့်မြတ်စွာသော မြေဓာတ်သည် မေအမှာကံ ကျွန်ုပ်ဟု ခေါ်တွင်သမုတ် ဤနာမ်ရုပ်အား နိဗ္ဗာနသာ နိဗ္ဗာန်သို့ ရောက်သည့်တိုင်အောင် ရက္ခန္တု စောင့်ရှောက်ပါစေသတည်း။

၁၃။ **ဘဂဝါတော ဘုန်းတော်ခြောက်ပါးနှင့် ပြည့်စုံတော်မူသော မြတ်စွာဘုရား**– လောကေလောက၌ မဟာအာပေါခေါ် ရေဓာတ်သဘောသည် အမှန်ပင်ရှိပါပေ၏။ ထိုရေဓာတ်၌–

(က) ယိုစီးခြင်း စွမ်းအားဂုဏ်သတ္တိသည်လည်းကောင်း၊

(ခ) စွတ်စိုခြင်း စွမ်းအားဂုဏ်သတ္တိသည်လည်းကောင်း၊

(ဂ) သန့်ရှင်းစင်ကြယ်စေခြင်း စွမ်းအားဂုဏ်သတ္တိသည်လည်းကောင်း၊

(ဃ) ပျော်ဝင်ခြင်း စွမ်းအားဂုဏ်သတ္တိသည်လည်းကောင်း၊

(င) ပေါင်းစည်းစေနိုင်သော စွမ်းအားဂုဏ်သတ္တိသည် လည်းကောင်း အမှန်ပင် ရှိပါပေ၏။

ဣတိ ဤသို့ စွမ်းအားငါးပါးဂုဏ်သတ္တိများနှင့် ပြည့်စုံသော မဟာအာပေါခေါ် ရေဓာတ်သည် မေမှာကံ ကျွန်ုပ်ဟု ခေါ်တွင်သမုတ် ဤနာမ်ရုပ်၌ အမှန်ပင်ရှိပါပေ၏။

**ဧတေနသစ္စဝဇ္ဇေန** မှန်ကန်သော သစ္စာစကားကြောင့် စွမ်းအားငါးပါး ဂုဏ်သတ္တိများနှင့် ပြည့်စုံသော မဟာအာပေါခေါ် ရေဓာတ်သည် မေအမှာကံ

ကျွန်ုပ်ဟု ခေါ်တွင်သမုတ် ဤနာမ်ရုပ်အား နိဗ္ဗာနသုခ နိဗ္ဗာန်သို့ ရောက်သည့် တိုင်အောင် ရက္ခန္တု စောင့်ရှောက်ပါစေသတည်း။

၁၄။ **ဘဂဝါတော ဘုန်းတော်ခြောက်ပါးနှင့် ပြည့်စုံတော်မူသော မြတ်စွာဘုရား**– လောကေလောကဌ မဟာတေဇောခေါ် ဓာတ်သဘော သည် အမှန်ပင်ရှိပါပေ၏။ ထိုတေဇောဓာတ်၌–

(က) ပူခြင်း စွမ်းအားဂုဏ်သတ္တိသည်လည်းကောင်း၊
(ခ) အေးခြင်း စွမ်းအားဂုဏ်သတ္တိသည်လည်းကောင်း၊
(ဂ) လင်းခြင်း စွမ်းအားဂုဏ်သတ္တိသည်လည်းကောင်း၊
(ဃ) မှောင်ခြင်း စွမ်းအားဂုဏ်သတ္တိသည်လည်းကောင်း၊
(င) ခြောက်သွေ့စေခြင်း စွမ်းအားဂုဏ်သတ္တိသည်လည်းကောင်း၊
(စ) အခိုးအလှံ့ဖြစ်ခြင်း စွမ်းအားဂုဏ်သတ္တိသည်လည်းကောင်း၊ အမှန် ပင်ရှိပါပေ၏။

ဣတိ ဤသို့ စွမ်းအားငါးပါးဂုဏ်သတ္တိများနှင့် ပြည့်စုံသော မဟာ တေဇောခေါ် ဓာတ်သဘောသည် မေမှာက် ကျွန်ုပ်ဟု ခေါ်တွင်သမုတ် ဤနာမ်ရုပ်၌ အမှန်ပင်ရှိပါပေ၏။

**တေနသစ္စဝဇ္ဇေန** မှန်ကန်သော သစ္စာစကားကြောင့် စွမ်းအား ခြောက်ပါး ဂုဏ်သတ္တိများနှင့်ပြည့်စုံသော မဟာတေဇောခေါ် ဓာတ်သဘော သည် မေအမှာက် ကျွန်ုပ်ဟု ခေါ်တွင်သမုတ် ဤနာမ်ရုပ်အား နိဗ္ဗာနသုခ နိဗ္ဗာန်သို့ ရောက်သည့်တိုင်အောင် ရက္ခန္တု စောင့်ရှောက်ပါစေသတည်း။

၁၅။ **ဘဂဝါတော ဘုန်းတော်ခြောက်ပါးနှင့် ပြည့်စုံတော်မူသော မြတ်စွာဘုရား**– လောကေလောကဌ မဟာဝါယောခေါ် လေဓာတ်သဘော သည် အမှန်ပင်ရှိပါပေ၏။ ထိုလေဓာတ်၌–

(က) ရှင်သန်လှုပ်ရှားနိုင်ခြင်း စွမ်းအားသတ္တိသည်လည်းကောင်း၊
( ခ) စိမ့်ဝင်စေနိုင်ခြင်း စွမ်းအားဂုဏ်သတ္တိသည်လည်းကောင်း၊
( ဂ) ပင့်ထောင်စေနိုင်ခြင်း စွမ်းအားဂုဏ်သတ္တိသည်လည်းကောင်း၊
(ဃ) ဖိချစေနိုင်ခြင်း စွမ်းအားဂုဏ်သတ္တိသည်လည်းကောင်း၊
( င) တွန်းပို့နိုင်ခြင်း စွမ်းအားဂုဏ်သတ္တိသည်လည်းကောင်း၊
( စ) ဆွဲခေါ်နိုင်ခြင်း စွမ်းအားဂုဏ်သတ္တိသည်လည်းကောင်း၊ အမှန်ပင် ရှိပါပေ၏။

ဤကဲ့သို့စွမ်းအားခြောက်ပါးဂုဏ်သတ္တိများနှင့် ပြည့်စုံသော မဟာဝါယောခေါ် လေဓာတ်သည် မေမှာကံကျွန်ုပ်ဟုခေါ်တွင်သမုတ်ဤနာမ်ရုပ်၌ အမှန်ပင်ရှိပါပေ၏။

**ဓေတနသစ္စဝဇ္ဇနေ** မှန်ကန်သော သစ္စာစကားကြောင့် စွမ်းအားခြောက်ပါး ဂုဏ်သတ္တိများနှင့်ပြည့်စုံသော မဟာဝါယောခေါ် လေဓာတ်သည် မေအမှာကံ ကျွန်ုပ်ဟု ခေါ်တွင်သမုတ် ဤနာမ်ရုပ်အား နိဗ္ဗာနသသ နိဗ္ဗာန်သို့ ရောက်သည့်တိုင်အောင် ရက္ခန္တု စောင့်ရှောက်ပါစေသတည်း။

၁၆။ **ဘဂဝါတော ဘုန်းတော်ခြောက်ပါးနှင့် ပြည့်စုံတော်မူသော မြတ်စွာဘုရား**— တသမာထိုမှတပါးလည်း ထိုပထဝီ၊ တေဇော၊ အာပေါ၊ ဝါယော ဓာတ်လေးပါးတို့တွင် ဖိုဓာတ်သဘော၊ မဓာတ်သဘော၊ ရုပ်ဓာတ်သဘော၊ နာမ်ဓာတ်သဘော၊ အမိနှင့်တူသည့်သဘော၊ အဖနှင့်တူသည့်သဘောတို့သည် သန္တိရှိကြပါပေကုန်၏။

ပထဝီ၊ အာပေါတည်းဟူသော ဓာတ်သဘောကား ရုပ်ဓာတ်ဖြစ်ပါ၏။ မဓာတ်ဖြစ်ပါ၏။ မိခင်နှင့် တူပါပေ၏။

တေဇော၊ ဝါယောတည်းဟူသော ဓာတ်သဘောကား နာမ်ဓာတ်ဖြစ်ပါ၏။ ဖိုဓာတ်ဖြစ်ပါ၏။ ဖခင်နှင့် တူပါပေ၏။

ဣလတိဤသို့ ဗိဓာတ်သဘော၊ မဓာတ်သဘော၊ ရုပ်ဓာတ်သဘော၊ နာမ်ဓာတ်သဘော၊ အမိနှင့်တူသည့် သဘော၊ အဖနှင့်တူသည့် သဘော ရှိကြကုန်သော (၂၂) ပါးသော စွမ်းအားအစုံ သိဒ္ဓိဂုဏ်တို့နှင့် ပြည့်စုံသော ပထဝီ၊ တေဇော၊ အာပေါ၊ ဝါယော ဓာတ်လေးပါးတို့သည် မေအမှာကံ ကျွန်ုပ်ဟု ခေါ်တွင်သမုတ် ဤနာမ်ရုပ်၌ အမှန်ပင်ရှိပါပေ၏။

တေနသစ္စဝဇ္ဇေန မှန်ကန်သော သစ္စာစကားကြောင့် (၂၂) ပါးသော စွမ်းအားအစုံ သိဒ္ဓိဂုဏ်တို့နှင့် ပြည့်စုံသော ဗိဓာတ်သဘော၊ မဓာတ်သဘော၊ ရုပ်ဓာတ်သဘော၊ နာမ်ဓာတ်သဘော၊ အမိနှင့်တူသည့် သဘော၊ အဖနှင့် တူသည့် သဘောရှိကြကုန်သော ပထဝီ၊ တေဇော၊ အာပေါ၊ ဝါယော ဓာတ်လေးပါးတို့သည် မေအမှာကံ ကျွန်ုပ်ဟု ခေါ်တွင်သမုတ် ဤနာမ်ရုပ် အား နိဗ္ဗုနသဿ နိဗ္ဗာန်သို့ ရောက်သည့်တိုင်အောင် ရက္ခန္တု စောင့်ရှောက်ပါစေ သတည်း။

၁၄။ ဘဂဝါတော ဘုန်းတော်ခြောက်ပါးနှင့် ပြည့်စုံတော်မူသော မြတ်စွာဘုရား– လောကချမ်းသာတရား (၃) ပါးဟူသည်ကား ရာဇအာဏာ၊ ဓနအာဏာ ဖောဒ္ဓဗ္ဗရောဂတည်းဟူသော အကြောင်းတရား သုံးပါးတို့သာလျှင် ဖြစ်ပါသည် အရှင်မြတ်ဘုရား။ ထိုသုံးပါးသော အကြောင်းတရားတို့သည် လည်း အနိစ္စ မမြဲကြပါကုန်၊ ဒုက္ခဆင်းရဲကြပါပေကုန်၏။ အနတ္တ အနှစ် ကင်းပ အစိုးမရကြပါကုန်၊ နိရောဓ ချုပ်ငြိမ်းကြပါပေကုန်၏ အရှင်မြတ် ဘုရား။

တေနသစ္စဝဇ္ဇေန မှန်ကန်သော သစ္စာစကား တွေ့ရှိခံစားသိမြင်ရ သော ဓမ္မတရားတော်မြတ်တို့ကို ဗုဒ္ဓသဘုရားသခင်ကိုယ်တော်မြတ်ကြီးကို ပူဇော်ရာမ ပူဇော်ပါ၏။ ဓမ္မတရားတော်မြတ်တို့ကို ပူဇော်ရာမ ပူဇော်ပါ၏။

သံဃာ သံဃာတော်အရှင်သူမြတ်တို့ကို ပူဇော်ရာမ ပူဇော်ပါ၏။ မာတာပိတာ စ အမိအဖတို့ကို ပူဇော်ရာမ ပူဇော်ပါ၏။ အာစရိယ ဆရာသမားတို့ကို ပူဇော်ရာမ ပူဇော်ပါ၏။

ဣတိ ဤသို့ ဘုရား၊ တရား၊ သံဃာ၊ မိဘ၊ ဆရာသမားတို့ကို ပူဇော်ကန်တော့ရသော ကုသိုလ်ကောင်းမှုကံ စေတနာတို့ကြောင့် လည်းကောင်း၊ တရားတော်တို့ကို ကိုယ်တိုင်ကိုယ်ကျ ကျင့်ကြံကြိုးစား ပွားများ အားထုတ်ရသော ကုသိုလ်ကောင်းမှုကံ စေတနာတို့ကြောင့် လည်းကောင်း၊ ဘုရား၊ တရား၊ သံဃာ၊ မိဘ၊ ဆရာသမားတို့၏ မေတ္တာတော်အာနုဘော်တို့ကြောင့် လည်းကောင်း မေအမှာကံ ကျွန်ုပ်ဟု ခေါ်တွင်သမုတ် ဤနာမ်ရုပ်သည် နိဗ္ဗာနသုခ နိဗ္ဗာန်သို့ ရောက်သည့်တိုင်အောင် လုပ်တိုင်းသော အကြောင်းတို့ အောင်မြင်ခြင်းသည် ဟောတုဖြစ်ပါစေသတည်း။

* * *

# သရဏဂုံ လာဘ်ဖွင့်ဂါထာတော်ကြီး

အဇ္ဇတဂ္ဂေ ပါဏုပေတံ ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ

ဗုဒ္ဓံ ပူဇေမိ လာဘံ သိဒ္ဓိ ဟောတိ ဟောတိ။

အဇ္ဇတဂ္ဂေ ပါဏုပေတံ ဓမ္မံ သရဏံ ဂစ္ဆာမိ

ဓမ္မံ ပူဇေမိ ဓနံ သိဒ္ဓိ ဟောတိ ဟောတိ။

အဇ္ဇတဂ္ဂေ ပါဏုပေတံ သံဃံ သရဏံ ဂစ္ဆာမိ

သံဃံ ပူဇေမိ ပီယံ သိဒ္ဓိ ဟောတိ ဟောတိ။

အဇ္ဇတဂ္ဂေ ပါဏုပေတံ ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ

ဓမ္မံ သရဏံ ဂစ္ဆာမိ၊ သံဃံ သရဏံ ဂစ္ဆာမိ

သဗ္ဗ သိဒ္ဓိ ဟောတိ ဟောတိ။

မေတ္တာပို့ အမျှဝေ

ဤမိတ်ပုညဘာဂံ

ဤကဲ့သို့ ကျင့်ကြံကြိုးစား ပွားများအားထုတ် လျှုဒါန်းပူဇော်ကန်တော့ ရသော ကုသိုလ်ကောင်းမှုကံ စေတနာအဖို့ဘာဂတို့အား အနန္တစကြာဝဠာ အတွင်း၌ မှီတင်းဖြစ်ပေါ် နေထိုင်ကြကုန်သော အနန္တနတ်၊ လူ၊ ဗြဟ္မာ၊ အနန္တသတ္တဝါအားလုံး၊ အရပ်လေးမျက်နှာ၊ အရပ်ရှစ်မျက်နှာ၊ အရပ်ဆယ် မျက်နှာ၌ ရှိကြကုန်သော မည်သို့သောပုဂ္ဂိုလ် သတ္တဝါမှမကျန်၊ တောစောင့် နတ်၊ တောင်စောင့်နတ်၊ မြို့စောင့်နတ်၊ ရွာစောင့်နတ်၊ အာကာသစိုး၊ ရုက္ခစိုး၊ ဝဿာဥကနတ်၊ ဘုမ္မာစိုး၊ မြေစောင့်နတ်၊ ရေစောင့်နတ်၊ လေစောင့် နတ်၊ သမုဒ္ဒရာစောင့်နတ်၊ မီးစောင့်နတ်၊ နေစောင့်နတ်၊ လစောင့်နတ်၊ နတ်မင်းအပေါင်းနှင့်တကွ သာသနာတော်အား စောင့်ရှောက်ပေးလျက်ရှိ သော သကြားမင်းအား လည်းကောင်း၊ ကျွန်ုပ်၏ ကိုယ်စောင့်နတ်အား လည်းကောင်း၊ အတွင်း (၃၇) မင်း၊ အပြင် (၃၇) မင်း၊ ကိုးမြို့ရှင်၊ မြင်း ဖြူရှင်၊ ဦးရှင်ကြီး၊ မနဲ့လေး၊ မယ်ဝဏ္ဏနှင့်သားများဖြစ်ကြသော ရွှေဖျင်းညီ နောင်တို့အား လည်းကောင်း၊ ပထဝီ၊ တေဇော၊ အာပေါ၊ ဝါယော ဓာတ်ကြီး လေးပါးအား မှီ၍ ဖြစ်ပေါ်ကြကုန်သော အနန္တနတ်၊ လူ၊ ဗြဟ္မာ၊ အနန္တ သတ္တဝါအပေါင်းတို့အား လည်းကောင်း၊ သတ္တလောက၊ သင်္ခါရလောက၊ ဩကာသလောကတည်းဟူသော လောက (၃) ပါးကို မှီ၍ ဖြစ်ပေါ်ကြကုန် သော အနန္တနတ်၊ လူ၊ ဗြဟ္မာ၊ အနန္တ သတ္တဝါအပေါင်းတို့အားလည်းကောင်း၊ ယမမင်းနှင့်တကွ ငရဲသူ/ငရဲသားအပေါင်းတို့အား လည်းကောင်း၊ အထူး သဖြင့် ဝိရူပက္ခမြွေနတ် နဂါးမင်းအား လည်းကောင်း၊ ဧရာပထ္ထမြွေနတ်နဂါး မင်းအား လည်းကောင်း၊ ဂနာဂေါတမမြွေနတ်နဂါးမင်းအား လည်းကောင်း၊ အနန္တစကြဝဠာအတွင်း၌ မှီတင်းဖြစ်ပေါ် နေထိုင်ကြကုန်သော ရာဇမင်းမြတ် အပေါင်းတို့အား လည်းကောင်း၊ မြန်မာပြည်အရပ်ရပ်၌ မှီတင်းဖြစ်ပေါ်

နေထိုင်ကြကုန်သော ရာဇမင်းမြတ်အပေါင်းတို့အား လည်းကောင်း၊ ကျွန်ုပ် ပြုခဲ့ဖူးသမျှသော ကုသိုလ်ကောင်းမှုကံ စေတနာ၊ ဒါနကုသိုလ်၊ သီလ ကုသိုလ်၊ သီလကုသိုလ်၊ ဘာဝနာကုသိုလ်၊ သဒ္ဓါကုသိုလ်၊ မေတ္တာကုသိုလ် အစုအစုတို့အား ဝသုန္ဓရေ မြေနတ်သားအား သက်သေအရာထား၍လည်း ကောင်း၊ ပထဝီ၊ တေဇော၊ အာပေါ၊ ဝါယော၊ ဓာတ်ကြီးလေးပါးအား သက်သေအရာထား၍ လည်းကောင်း အမျှအတန်းပေးဝေပါသည်။ သာဓု အနုမောဒနာ ခေါ်ဆိုနိုင်ကြပါစေကုန်သတည်း။

(အမျှ၊ အမျှ၊ အမျှ ယူတော်မူကြပါကုန်လော့) သုံးကြိမ်ရွတ်ဆိုပါ။

အကျွန်ုပ်သည်လည်း သင်တို့ပြုခဲ့ဖူးသမျှသော ကုသိုလ်ကောင်းမှုကံ စေတနာ၊ ဒါနကုသိုလ်၊ သီလကုသိုလ်၊ ဘာဝနာကုသိုလ်၊ သဒ္ဓါကုသိုလ်၊ မေတ္တာကုသိုလ်၊ အစုစုတို့အား သာဓုအနုမောဒနာ ခေါ်ဆိုပါ၏။

(သာဓု၊ သာဓု၊ သာဓု) သုံးကြိမ်ရွတ်ဆိုပါ။

အနန္တစကြဝဠာအတွင်း၌ မှီတင်းဖြစ်ပေါ်နေထိုင်ကြကုန်သော အနန္တ နတ်ပြာ၊ နတ်မွဲ၊ နတ်ဆင်းရဲနှင့် သရဲ၊ သဘက်၊ ကဝေမျိုး (၉၉)၊ စုန်းမျိုး၊ ပြိတ္တာ၊ မိစ္ဆာ အောက်လမ်းမှန်သမျှတို့နှင့်တကွ ကြွတ်ပြာ၊ ကြွတ်မွဲ၊ ကြွတ် သရဲ၊ ဖုတ်၊ ပြိတ္တာ အပေါင်းမှန်သမျှတို့ကိုလည်း ကျွန်ုပ်ပြုခဲ့ဖူးသမျှသော ကုသိုလ်ကောင်းမှုကံ စေတနာ၊ ဒါနကုသိုလ်၊ သီလကုသိုလ်၊ ဘာဝနာ ကုသိုလ်၊ သဒ္ဓါကုသိုလ်၊ မေတ္တာကုသိုလ် အစုစုတို့အား ဝသုန္ဓရေမြေနတ် သားအား သက်သေအရာထား၍ လည်းကောင်း ပထဝီ၊ တေဇော၊ အာပေါ၊ ဝါယောဓာတ်ကြီးလေးပါးအား သက်သေအရာထား၍ လည်းကောင်း အမျှ အတန်း ပေးဝေပါသည်။ သာဓုအနုမောဒနာ ခေါ်ဆိုတော်မူကြပါစေကုန် သတည်း။

(အမျှ၊ အမျှ၊ အမျှ ယူတော်မူကြပါကုန်လော့) သုံးကြိမ်ရွတ်ဆိုပါ။

ကျွန်ုပ်သည်လည်း သင်တို့ပြုခဲ့ဖူးသမျှသော ကုသိုလ်ကောင်းမှုကံ စေတနာ၊ ဒါနကုသိုလ်၊ သီလကုသိုလ်၊ ဘာဝနာကုသိုလ်၊ သစ္စာကုသိုလ်၊ မေတ္တာကုသိုလ် အစုစုတို့အား သာဓုအနုမောဒနာ ခေါ်ဆိုပါ၏။

(သာဓု၊ သာဓု၊ သာဓု) သုံးကြိမ်ရွတ်ဆိုပါ။

သဂဝါတော ဘုန်းတော်ခြောက်ပါးနှင့် ပြည့်စုံတော်မူသော မြတ်စွာဘုရား၊ ဘုရားတပည့်တော်နှင့် ဘဝအဆက်စပ်က တော်စပ်ခဲ့ဖူးသော ဆွေတော်ရှစ်သောင်း၊ မျိုးတော်အပေါင်းနှင့်တကွ မိဘဆရာသမားတို့အား လည်းကောင်း၊ ယခုလက်ရှိဘဝ၌ တော်စပ်၍နေသော ဆွေတော်ရှစ်သောင်း မျိုးတော်အပေါင်းတို့နှင့်တကွ မိဘ၊ ဆရာသမားတို့အား လည်းကောင်း၊ ကျွန်ုပ်ပြုခဲ့ဖူးသမျှသော ကုသိုလ်ကောင်းမှုကံ စေတနာ၊ ဒါနကုသိုလ်၊ သီလကုသိုလ်၊ ဘာဝနာကုသိုလ်၊ သစ္စာကုသိုလ်၊ မေတ္တာကုသိုလ် အစုစုတို့အား ဝသုန္ဓရေမြေနတ်သားအား သက်သေအရာထား၍ လည်းကောင်း၊ ပထဝီ၊ တေဇော၊ အာပေါ၊ ဝါယော ဓာတ်ကြီးလေးပါးအား သက်သေအရာထား၍ လည်းကောင်း အမျှအတန်း ပေးဝေပါသည် သာဓုအနုမောဒနာ ခေါ်ဆိုတော်မူကြပါစေကုန်သတည်း။

(အမျှ၊ အမျှ၊ အမျှ ယူတော်မူကြပါကုန်လော့) သုံးကြိမ်ရွတ်ဆိုပါ။

အကျွန်ုပ်သည်လည်း သင်တို့ပြုခဲ့ဖူးသမျှသော ကောင်းမှုကံစေတနာ၊ ဒါနကုသိုလ်၊ သီလကုသိုလ်၊ ဘာဝနာကုသိုလ်၊ သစ္စာကုသိုလ်၊ မေတ္တာကုသိုလ် အစုစုတို့အား သာဓုအနုမောဒနာ ခေါ်ဆိုပါ၏။

(သာဓု၊ သာဓု၊ သာဓု) သုံးကြိမ်ရွတ်ဆိုပါ။

